




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၂၃၃/ ၉၉ ၁၉ ၉ ၉ ခုနှစ်၊ မတ် လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါ်သက်သက်မွန်

(ခ) အဘအမည် ဦး အောင်စိုး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် တီမဝိုင် – ၀၉၀၆၀၇

(ဃ) နေရပ်လိပ်စာ အမှတ် ၄၂/က၊ ပထမထပ်၊ ၄–လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း တိုင်ရာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ( Tai Yar Garment Industry Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊ လှိုင်သာယာ မြို့နယ်၊ စက်မှုဇုန်( ၄ )၊ မြေကွက်အမှတ်( ၁၆၅ )

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၅၅.၅၉ သန်း( ကျပ်ငါးဆယ့်ငါးသန်း၊ ငါးသိန်းကိုးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၉/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ နှောင်းတန်ခူးလဆန်း ၇ ရက်။
(၁၉၉၉ ခုနှစ်၊ မတ်လ ၂၃ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.) တည်ထောင်၍ ဦးအင်စိုး အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၄)၊ မြေကွက်အမှတ် (၁၆၅)၊ ရှိမြေ (၁.၀၃၃)ဧက (၄၁၈၀.၄၁ စတုရန်းမီတာ) ကိုငှါးရမ်း၍ စက်ရုံတည်ဆောက်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၉-၁-၉၉)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့ သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၅-၂-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၉/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် တိုင်ရာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)အား CMP စနစ်အရ အထည်ချုပ်လုပ်ငန်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၃၃/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်

အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာ စာချုပ်စာတမ်းများကို တည်ဆဲ ဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့် အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် အငှါးချထားသူ ဦးအင်စိုးနှင့် အငှါး ချထားခြင်း ခံရသူ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.) တို့ချုပ်ဆိုမည့် မြေငှါး သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင်ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု

ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၂၉/၉၈ (၁၂၂၀၁)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မတ်လ ၂၃ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ တိုင်ရာ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက် (Tai Yar Garment Industry Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

TO - [illegible]
FROM - [illegible]


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၈၁၂၊ ၂၇၂၁၅၀၊ ၂၇၂၄၉၁။


စာအမှတ်၊ ရက - ၁/ မ - ၂၂၆/ ၉၈ ( ၅၈၀၂ )။
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်။

အကြောင်းအရာ။ ။ ကုမ္ပဏီအမည် ပြောင်းလဲပြင်ဆင်၍ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခွင့်ပြုရန်ကိစ္စ ။

ရည်ညွှန်းချက်။ ။ နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ ( ၂-၁၁-၉၈ ) ရက်စွဲပါစာ။

၁။ နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စနှင့်စပ်လျဉ်း၍ နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်အမည်အစား ကုမ္ပဏီအသစ်တစ်ခုဖြစ်သော ``နန်းယာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်`` ဟူသောအမည်ဖြင့် ပြောင်းလဲပြင်ဆင်ခွင့်ပြုပါရန်တင်ပြသည့် ရည်ညွှန်းချက်စာကိုလက်ခံရရှိခဲ့ပါသည်။

၂။ နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုလွှာကို ( ၉-၁၁-၉၈ ) နေ့တွင်ကျင်းပသော ကော်မရှင်၏ ( ၂၀/ ၉၈ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီအမည်ကိုလက်ရှိကုမ္ပဏီအမည်နှင့်မတူစေရန်အခြားအမည် ပြောင်း၍ပြန်လည်တင်ပြစေရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ပါ၍အထက်ပါဆုံးဖြတ်ချက်ကိုသိရှိနိုင်ပါရန်နှင့်လိုအပ်သကဲ့သို့ဆက်လက် ဆောင်ရွက်နိုင်ပါရန်အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

<u>အုပ်ချုပ်မှုဒါရိုက်တာ၊</u>
<u>နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်။</u>

မသ * ၁၆/ ၁၁/ ၉၈။




# NANN YAR INDUSTRY CO., LTD.

No. 311, Lower Kyeemyindaing Road, (the Corner of Ahlone Rd.), Ahlone Township, Yangon, Myanmar.
Tel : 95-1-210550, 95-1-224259

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရက်စွဲ ။ ။၁၉၉၈ ခု၊ အောက်တိုဘာလ ( ၁၆ ) ရက်

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း ။

အထက်ပါအကြောင်းအရာနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ နန်းယာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် စက်မှုရုံအမှတ်(၄) မြေကွက်အမှတ်(၁၆၅)ရှိ ၁.၀၃၃ ဧကအကျယ်အဝန်းရှိသော မြေနေရာကို ငှါးရမ်း၍ စင်္ကာပူနိုင်ငံရှိ TY FASHION INT'L PTE LTD. မှ ကုန်ကြမ်းပေး၊ ချုပ်ခပေး၍ ချုပ်ပြီးအထည်များကို ထိုကုမ္ပဏီမှ ပြန်ယူမည့်စနစ် CUT, MAKE, PACK (C.M.P) စနစ်ဖြင့် အရည်အသွေးကောင်းမွန်သော အထည်များချုပ်လုပ်ခြင်း၊ ထိုကုမ္ပဏီမှပင် ကုန်ကြမ်းအချို့ကို SUPPLIER CREDIT စနစ်ဖြင့် အကြွေးဝယ်ယူ၍ ပြည်တွင်းတွင်အထည်များ ချုပ်လုပ်ပြီး ရောင်းချခြင်းလုပ်ငန်းတို့ကို ဆောင်ရွက်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားခဲ့ရာ (၁၈ ၊ ၉ ၊ ၉၈)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အကြိမ်အစည်းအဝေးမှ ခွင့်ပြုပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန် အဆိုပြုလွှာ(၂၅)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(သက်သက်မွန်)
အုပ်ချုပ်မှုဒါရိုက်တာ
နန်းယာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်



NANN YAR INDUSTRY CO., LTD.
NO.311, LOWER KYEEMYINDAING ROAD, (THE CORNER OF AHLONE ROAD)
AHLONE TOWNSHIP, YANGON.
TEL: 223556
အမှတ်(၃၁၁)၊ အောက်ကြည့်မြင်တိုင်လမ်း၊ (အလုံလမ်းထောင့်)၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ-၁၉၉၈ ခုနှစ်၊ ဩဂုတ်လ ( ၁၄ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့် စပ်လျဉ်း၍၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ကျွန်မတို့၏ နန်းယာစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည်၊ ရန်ကုန်တိုင်း၊ လှိုင်သာယာ မြို့နယ်၊ စက်မှုဇုန်၊ စက်မှုဇုန်အမှတ်(၂) မြေကွက်အမှတ်(၂၂၆)ရှိ၊ ၁. ၄၈၄၈ ဧက အကျယ် အဝန်းရှိသော နေရာကို ငှားရမ်းပြီး စင်္ကာပူနိုင်ငံရှိ TY Fashion International Pte., Ltd မှ ကုန်ကြမ်းပေး၊ ချုပ်ခပေး၍ ချုပ်ပြီးအထည်များကို ထိုကုမ္ပဏီမှ ပြန်ယူမည့်စနစ် Cut, Make, Pack (C.M.P) စနစ်ဖြင့်၊ အရည်အသွေးကောင်းမွန်သော အထည်များချုပ်လုပ်ခြင်း၊ ထို ကုမ္ပဏီမှပင် ကုန်ကြမ်းအချို့ကို Suppliers Credit စနစ်ဖြင့်အကြွေးဝယ် ယူ၍ ပြည်တွင်းတွင် အထည်များချုပ်လုပ်ပြီး ရောင်းချခြင်းလုပ်ငန်းတို့ကို ဆောင်ရွက်ရန်ရည်ရွယ်၍၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို (၇. ၄. ၁၉၉၈) နေ့ က လျှောက်ထားခဲ့ပါသည်။

သို့သော်လည်း၊ အဆိုပါ စက်ရုံတည်ဆောက်မည့် မြေနေရာမှ အခြားနေရာသို့ရွှေ့ရန် အကြောင်းပေါ်ပေါက်လာပါသဖြင့် အဆိုပြုချက်ကို ခေတ္တဆိုင်းငံ့ပေးပါရန် (၅. ၅. ၁၉၉၈)နေ့စွဲ ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံ ပန်ကြားတင်ပြခဲ့ပါသည်။

ယခုအခါ ယခင်စက်ရုံလုပ်ငန်းဆောင်ရွက်မည့် မြေနေရာအစား ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ စက်မှုဇုန်အမှတ်(၄)၊ မြေကွက်အမှတ်(၁၆၅)တွင် ဆောင်ရွက် ရန် စီစဉ်ပြီးဖြစ်ပါ၍၊ ကျွန်မတို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ(၁၅)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(သက်သက်မွန်)
အုပ်ချုပ်မှုဒါရိုက်တာ
နန်းယာစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

# TAI YAR GARMENT INDUSTRY CO., LTD.

သို့

ဉက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရက်စွဲ၊ ၁၉၉၇ခုနှစ်၊ ဒီဇင်ဘာလ (၂၈) ရက်

အကြောင်းအရာ။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂နှင့်၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ တိုင်ရာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်သည်၊ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဒေသ၊ စက်မှုဇုန်အမှတ်(၄) မြေကွက်အမှတ်(၁၆၅)ရှိ၊ ၁.၀၃၃ဧက အကျယ်အဝန်းရှိသော မြေကိုငှားရမ်းပြီး သက်ဆိုင်ရာစက်နှင့် စက်ပစ္စည်း ကရိယာများတပ်ဆင်၍ အထည်များချုပ်လုပ်သည့်လုပ်ငန်းကို လုပ်ကိုင်ခွင့် ရရှိနိုင်ရန်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်မတို့ကုမ္ပဏီလီမိတက်သည် စင်္ကာပူနိုင်ငံ TY Fashion International Pte., Ltd မှ အမေရိကန်ဒေါ်လာ(၀.၉၃)သန်း တန်ဘိုးရှိသော ကမ္ဘာ့အဆင့်အတန်းမီ စက်ပစ္စည်းကရိယာများကို Suppliers Credit Loan ဖြင့် ဝယ်ယူတင်သွင်းပြီး (၅)နှစ်အတွင်းပြန်လည် ပေးဆပ်မည်ဖြစ်ပါသည်။

၃။ ကျွန်မတို့ကုမ္ပဏီသည်၊ အဆိုပါစက်ပစ္စည်းများတပ်ဆင်ပြီး အရည်အသွေးကောင်းမွန်သော အထည်များချုပ်ပါမည်။ ချုပ်မည့်အထည်၏၉၅%ကို စင်္ကာပူနိုင်ငံ၊ TY Fashion International Pte., Ltd မှပင်ကုန်ကြမ်းပေး၊ ချုပ်ခပေးအပ်၍ ချုပ်ပြီးအထည်များကို ထိုကုမ္ပဏီမှပင် ပြန်ယူမည့်စနစ် Cut, Make, Pack (C-M-P) ဖြင့် လုပ်ကိုင်မည်ဖြစ်ပါသည်။ ၅%ကိုပြည်တွင်းတွင် ရောင်းချဖြန့်ဖြူးမည်ဖြစ်၍၊ ထိုပြည်တွင်းထုတ်လုပ်မှုအတွက် လိုအပ်သောကုန်ကြမ်းများကိုလည်း အဆိုပါ TY Fashion International Pte., Ltd မှပင် Suppliers Credit စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ Suppliers Credit စနစ်ဖြင့်ဝယ်ယူထားသော စက်ပစ္စည်းကရိယာများနှင့် ကုန်ကြမ်းတန်ဖိုးတို့ကို C-M-P စနစ်ဖြင့်ရရှိသော ချုပ်ခရငွေများဖြင့် ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။

၄။ ကျွန်မတို့ကုမ္ပဏီအနေဖြင့် ရင်းနှီးငွေကျပ်သိန်း(၅၀၀)ကို ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

TAI YAR GARMENT INDUSTRY CO., LTD.



၅။ သို့ဖြစ်ပါ၍၊ နိုင်ငံတော်အတွက်များပြားသောငွေ ရယူနိုင်သော ဖလှယ်ငွေများရရှိစေရန်အတွက် လည်းကောင်း၊ စက်မှုနည်းပညာရပ်များ တိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေးဖွံ့ဖြိုး တိုးတက်စေခြင်းအလို့ငှာလည်းကောင်း၊ ကျွန်မတို့ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၂နှင့်၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလည်း ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၆။ ထို့အပြင်ချုပ်ပြီးအထည်များရောင်းချ၍ ရရှိသောဝင်ငွေအပေါ်တွင် ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

၇။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ် ပါသည်။

(၁) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်။
(၂) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေး အထောက်အထားများ။
(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများနှင့် ကုမ္ပဏီနှင့်ပတ်သက်သော အထောက်အထား စာရွက်စာတမ်းများ။
(၄) ဘဏ္ဍာရေး အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(သက်သက်မွန်)
အုပ်ချုပ်မှုဒါရိုက်တာ
တိုင်ရာအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်

# TAI YAR GARMENT INDUSTRY CO., LTD.

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရက်စွဲ ၊ ၁၉၉၈ ခုနှစ် ၊ ဒီဇင်ဘာလ ( ၂၈ ) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ တိုင်ရာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်သည်၊ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဒေသ၊ စက်မှုဇုန် အမှတ်(၄) မြေကွက်အမှတ်(၁၆၅)ရှိ၊ ၁. ၀၃၃ဧက အကျယ်အဝန်းရှိသော မြေကိုငှားရမ်း၍ အထည်ချုပ်စက်ရုံ တည်ထောင်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အရည်အသွေးကောင်းမွန်သော ချုပ်ပြီးအထည်များကို ထုတ်လုပ်ရောင်းချနိုင်ရန်အတွက် ရည်ရွယ်၍၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြု မိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ နိုင်ငံခြားသားမည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍၊ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၂။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် မီးဘေးအန္တရာယ် ကာကွယ်နိုင်ရေးအတွက် လိုအပ်သော အစီအမံများကို စီစဉ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

၃။ လုပ်ငန်းလည်ပတ်မှုအတွက် ပြည်ပမှမှာယူသော စက်ပစ္စည်းများကုန်ကြမ်းနှင့်ပတ်သက်သော ချေးငွေများသည် လုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီနှင့်သာ သက်ဆိုင်ပြီးနိုင်ငံတော်နှင့် လုံးဝသက်ဆိုင်မှုမရှိပါ။

၄။ ပြန်လည်ပေးဆပ်မည့်အဆိုပါချေးငွေများနှင့် နှစ်စဉ်ကုန်ကြမ်းနှင့် လိုအပ်သည့်ပစ္စည်းများအတွက် လိုအပ်သည့်နိုင်ငံခြားငွေများကို အဆိုပြုလုပ်ငန်းမှရရှိမည့် တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးချေမည်ဖြစ်ပါသည်။

၅။ ထို့အပြင် ထုတ်လုပ်မည့်ပစ္စည်းများကို၊ နိုင်ငံခြားဈေးကွက်သို့ တင်ပို့ရောင်းချရန် ဈေးကွက်များကိုလည်း ရှာဖွေစီစဉ်ပြီးဖြစ်ကြောင်း တင်ပြပါသည်။

၆။ ထို့အပြင် ယခုအဆိုပြုလွှာတွင် ဖော်ပြသည့် စက်ရုံလုပ်ငန်းမှာ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိမှသာ စတင်ဆောင်ရွက်မည့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(သက်သက်မွန်)
အုပ်ချုပ်မှုဒါရိုက်တာ
တိုင်ရာအထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ - ၁ )

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၁၄-၈-၁၉၉၈

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏-

| | | |
|---|---|---|
| (က) | အမည် | ဒေါ်သက်သက်မွန် |
| (ခ) | အဘအမည် | ဦးအောင်စိုး |
| (ဂ) | နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | တီဗီဝိုင် - ဝ၉ဝ၆ဝ၇ |
| (ဃ) | နေရပ်လိပ်စာ | အမှတ် ၄၂/က<br>ပထမထပ်၊ ၄လမ်း၊<br>လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး/ဘာသာ | မြန်မာ/ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - |
| (ဆ) | လုပ်ငန်းအမျိုးအစား | - |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | | |
|---|---|---|
| (က) | အမည် | - |
| (ခ) | အဘအမည် | - |
| (ဂ) | နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | - |
| (ဃ) | နေရပ်လိပ်စာ | -<br>- |
| (င) | လူမျိုး/ဘာသာ | - |
| (စ) | အဖွဲ့အစည်းအမည် | - |
| (ဆ) | လုပ်ငန်းအမျိုးအစား | - |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - |

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

| | |
|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | အထည်ချုပ်လုပ်ငန်း |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | - |

၄။ . လုပ်ကိုင်မည့်စီးပွားရေးပုံစံ

| | |
|---|---|
| (က) နိုင်ငံသားနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | လီမိတက်ကုမ္ပဏီ (နောက်ဆက်တွဲဇယား - ၁) |
| (ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | |
| (ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

| | |
|---|---|
| (က) တစ်ဦးတည်းပိုင် | - |
| (ခ) အစုစပ်လုပ်ငန်း | - |
| (ဂ) လီမိတက်ကုမ္ပဏီ | -တိုင်ရာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက် ( နောက်ဆက်တွဲဇယား - ၁ ) |
| (ဃ) သမဝါယမအသင်း | - |

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဍာန်ဖွဲ့စည်းလိုပါက-

| | |
|---|---|
| (က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ | - |
| (ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား | - |
| (ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ | - |

၇။ လီမိတက်ကုမ္ပဏီပုံသဏ္ဍာန်ဖွဲ့စည်းလိုပါက-

| | |
|---|---|
| (က) ခွင့်ပြုမတည်ငွေရင်း | ကျပ်၁၀၀,၀၀၀,၀၀၀(ကျပ်သန်းတစ်ရာတိတိ) |
| (ခ) အစုရှယ်ယာအမျိုးအစား | တစ်စုလျှင် ကျပ်၁၀,၀၀၀(ကျပ်တစ်သောင်းတိတိ)တန် သာမန်အစုရှယ်ယာ ၁၀,၀၀၀ (တစ်သောင်း ) |
| (ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ | ကျပ် ၅၀,၀၀၀,၀၀၀ (ကျပ်သန်းငါးဆယ်တိတိ ) တစ်စုလျှင် ကျပ်၁၀,၀၀၀ (ကျပ်တစ်သောင်းတိတိ ) တန် အစုရှယ်ယာ ( ၅၀၀၀ ) |

၁။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

| | | |
|---|---|---|
| (က) | မတည်ငွေရင်းပမာဏ | (ကျပ်ထောင်ပေါင်း) |
| (၁) | ငွေပမာဏ | ၁၆၀၀၀ |
| (၂) | အဆောက်အဦ | ၃၄၀၀၀ |
| (၃) | မြေ | - |
| (၄) | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | - |
| (၅) | စက်ပစ္စည်းကရိယာများ ( နောက်ဆက်တွဲဇယား- ၂ , ၂ က ) | ၅၅၈၆. ၁ |
| (၆) | ကုန်ကြမ်းပစ္စည်းများ | - |
| | စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၅၅၅၈၆. ၁ |

( စက်ပစ္စည်းများကို စင်္ကာပူနိုင်ငံ၊ TY Fashion International Pte., Ltd မှ Suppliers Credit Loan Agreement အရ (၅) နှစ်အကြွေးဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။ )

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (ခ) | နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် | | |
| (၁) | စက်ပစ္စည်းများ၊ စက်ကရိယာများ၏တန်ဖိုး (နောက်ဆက်တွဲဇယား - ၂ က ) | ၅၅၈၆၀၂၆ | ၉၃၁၀၂၁ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်း၏တန်ဖိုး (နောက်ဆက်တွဲဇယား - ၃ ) (နိုင်ငံခြားမှ C-M-P စနစ်/Supplier Credit စနစ်ဖြင့် တင်သွင်းလာမည့် ကုန်ကြမ်း) | - | - |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |

(ဂ) တည်ဆောက်မှုကာလ — ၁၂ - လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — ၃ - လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား — အထည်ချုပ်လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ — မြေကွက်အမှတ် (၁၆၅)၊ မြေတိုင်းရပ်ကွက်အမှတ်ဇုန်(၄)၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

| | | |
|---|---|---|
| (ဂ) | ဆောင်ရွက်ပုံနည်းစနစ် | အရည်အသွေးကောင်းမွန်သော အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ရောင်းချခြင်း၊ C-M-P စနစ်ဖြင့်လက်ခယူချုပ်လုပ်ခြင်း။ |
| (ဃ) | နှစ်စဉ်စက်သုံးဆီလိုအပ်ချက်- | |
| | ၁။ ဒီဇယ်ဆီ | ဂါလံ (၃၀၀၀) |
| | ၂။ ဓါတ်ဆီ | ဂါလံ (၅၀၀၀) |
| | ၃။ စက်ဆီ၊ ချောဆီ | ဂါလံ (၁၀၀) |
| | ၄။ သဘာဝဓါတ်ငွေ့ရည် | - |
| (င) | နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်- | |
| | ၁။ လျှပ်စစ်ဓါတ်အား | 500 – K.V.A |
| | ၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား | 450 – K.W |
| | ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား | - |
| | ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - |
| | ၅။ ပေးပို့သည့်အခြားအား(ရေအား/လေအားစသည်များ) | - |
| (စ) | နှစ်စဉ်ရေလိုအပ်ချက်- | |
| | ၁။ တစ်နေ့ရေလိုအပ်ချက် | ဂါလံ (၂၀၀၀၀) |
| | ၂။ တစ်နှစ်ရေလိုအပ်ချက် | ဂါလံ (၆၀၀၀၀၀၀) |
| (ဆ) | နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် | နောက်ဆက်တွဲဇယား - ၃က, ခ, ဂ, ဃ |
| (ဇ) | အဆောက်အဦလိုအပ်ချက်     စက်ရုံ + ရုံးပူးတွဲ | ပင်မအဆောက်အဦး ၈၀ ပေ × ၂၉၀ ပေ (၁)လုံး<br>ပူးတွဲအဆောက်အဦး ၄၀ ပေ × ၁၂၀ ပေ (၁)လုံး |
| (ဈ) | မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် | ပုဂ္ဂလိကပိုင်စက်မှုမြေ၊<br>(၁. ၀၃၃)ဧက၊ (၄၄၉၈၉. ၅)စတုရန်းပေ |
| (ည) | ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု | နောက်ဆက်တွဲဇယား - ၄ |
| (ဋ) | ရောင်းချမည့်နည်းစနစ် | စုစုပေါင်းထုတ်လုပ်မည့်အထည်များ၏ ၉၅%ကို စင်္ကာပူနိုင်ငံ TY Fashion International Pte., Ltd အတွက် (C-M-P) စနစ်ဖြင့်ချုပ်ခယူထုတ်လုပ်၍ ၅%ခန့်ကို ပြည်တွင်းတွင်ရောင်းချပါမည်။ |

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ<br>ကျပ်ငွေ    နိုင်ငံခြားငွေ |
|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - ၅ |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - ၇ |

| | | |
|---|---|---|
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - ၄ |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၄ |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၄ |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း -

| | | |
|---|---|---|
| (က) | ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ - | နောက်ဆက်တွဲဇယား - ၆ |
| (ခ) | နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ - | နောက်ဆက်တွဲဇယား - ၆ |

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ -

| | | ကျပ်ငွေ　　နိုင်ငံခြားငွေ |
|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား - ၇ |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား - ၇ |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား - ၇ |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား - ၈ |
| (င) | အရင်းကြေကာလ | နောက်ဆက်တွဲဇယား - ၉ |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား - ၁၀/၁၁ |
| (ဆ) | အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | အလုပ်အကိုင်နေရာသစ် (၇၈၇) နေရာပေါ်ထွက်လာစေမည်ဖြစ်သည်။ |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့် စပ်လျဉ်းသည့် ထောက်အထားများ -
အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း။
(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ။
(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ။
(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေအထောက်အထားများ။

လက်မှတ်၊ ၊ --------------------
အမည်၊ ၊ ဒေါ်သက်သက်မွန်
ရာထူး၊ ၊ အုပ်ချုပ်မှုဒါရိုက်တာ
တိုင်ရာအထည်ချုပ်လုပ်ငန်း
ကုမ္ပဏီလီမိတက်။

## Proposal Form (1) Re-item 4 (A), 5(C)
## List of Executives

( Schedule - 1)

| Sr.No | Name | Citizenship & N.R.C.No. | Desigration | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | တိုင်ရာအထည်ချုပ်လုပ်ငန်း ကုမ္ပဏီလီမိတက်ကို ကိုယ်စားပြုသူများ | | | | ကျပ်သိန်း (၅၀၀) | ၁၀၀% |
| ၁။ | ဒေါ်သက်သက်မွန် | မြန်မာ<br>တီဗွီဝိုင် - ၀၉၀၆၀၇ | မန်နေဂျင်း ဒါရိုက်တာ | အမှတ် ၄၂/က ပထမထပ်။ ၄လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂။ | ဦးအောင်စိုး | မြန်မာ<br>တီဗွီဝိုင် - ၀၇၆၆၆၉ | ဒါရိုက်တာ | အမှတ် ၄၂/က ပထမထပ်၊ ၄လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| | | | | စုစုပေါင်းရင်းနှီးငွေ | ကျပ်သိန်း (၅၀၀) | ၁၀၀% |

| Proposal Form (1) Re-item 8A (5) 8B (1)<br><br>List of Machineries and Equipments ETC to be imported<br><br>( Schedule - 2 ) | | | |
|---|---|---|---|
| Sr.No | Particular | Value | |
| | | US$ | Kyats ( 000'S ) |
| 1 | Machineries | 588301 | 3529.8 |
| 2 | Accessories | 30420 | 182.5 |
| 3 | Electrical Goods | 108100 | 648.6 |
| 4 | Office Equipments & Others | 74200 | 445.2 |
| 5 | Vehicles | 130000 | 780.0 |
| | **Total** | **931021** | **5586.1** |

**Proposal Form (1) Re-item 8A (5) 8B(1)**

**List of Machineries and Equipment ETC to be imported**

( Schedule - 2A )

| NO | DESCRIPTION / SPECIFICATION | COUNTRY OF ORIGIN | QTY | UNIT PRICE US$ | AMOUNT US$ |
|---|---|---|---|---|---|
| | **MACHINERIES** | | | | |
| 1 | "SIRUBA" Overlock Machine 3 Thread, Model:573E-504M1-4S | TAIWAN | 8 | 450 | 3,600.00 |
| 2 | "SIRUBA" Overlock Machine 4 Thread, Model:574E-514M2-24 | TAIWAN | 25 | 500 | 12,500.00 |
| 3 | "SIRUBA" Overlock Machine 4 Thread, Model:747E-514M2-24 | TAIWAN | 25 | 500 | 12,500.00 |
| 4 | "SIRUBA" Overlock Machine 5 Thread, Model:757E-516M2-55 | TAIWAN | 20 | 550 | 11,000.00 |
| 5 | "SIRUBA" Overlock Machine 5 Thread, Model:575E-516M2-55 | TAIWAN | 20 | 550 | 11,000.00 |
| 6 | "SIRUBA" Overlock Machine 5 Thread, Model:575E-516LI-35 | TAIWAN | 20 | 550 | 11,000.00 |
| 7 | "SIRUBA" Overlock Machine 6 Thread, Model:576E-516M2-324 | TAIWAN | 38 | 600 | 22,800.00 |
| 8 | "SIRUBA" C/Bed Double Chainstitch Machine, Model:VC008 | TAIWAN | 27 | 800 | 21,600.00 |
| 9 | "SIRUBA" C/Bed Overdeck Seams Machine, Model:C007E | TAIWAN | 23 | 800 | 18,400.00 |
| 10 | "NITAKA" Machine High Speed Single Needle, Model:TTC-1550 | TAIWAN | 225 | 350 | 78,750.00 |
| 11 | "NITAKA" Machine High Speed Single Needle, Model:TC2-B731-3 | TAIWAN | 8 | 295 | 2,360.00 |
| 12 | "NITAKA" Machine Double Needle, Model:TC2-B842-5 | TAIWAN | 8 | 900 | 7,200.00 |
| 13 | "OSHIMA" Mini Open Side Press Mahine, Model: OP-450G | TAIWAN | 2 | 2500 | 5,000.00 |
| 14 | "OSHIMA" Universal Winder 4 Threads Type, Model: OW-40 | TAIWAN | 8 | 500 | 4,000.00 |
| 15 | "JUKI" Machine Single Needle Automatic Cutting, Model:DLM-5200 | JAPAN | 5 | 900 | 4,500.00 |
| 16 | "JUKI" Button Hole Machine, Model:LBH-781 | JAPAN | 9 | 1500 | 13,500.00 |
| 17 | "JUKI" Machine Bartack, Model:LK-1850 | JAPAN | 19 | 1500 | 28,500.00 |
| 18 | "JUKI" Lockstitch Button Sewing Machine, Model:MB-373 | JAPAN | 10 | 1000 | 10,000.00 |
| 19 | "GRINDER" Gnd Stoone Machine,Model:MD-1507 | TAIWAN | 2 | 400 | 800.00 |
| 20 | "AMANO" Machine Absent, Model:EX - 6000 | TAIWAN | 6 | 300 | 1,800.00 |
| 21 | "KM" Straight Cutting Machine, Model:KS-AUV-10 | TAIWAN | 9 | 700 | 6,300.00 |
| 22 | "KL" Straight Cutting Machine, Model:EL-829 | TAIWAN | 9 | 600 | 5,400.00 |

| NO | DESCRIPTION / SPECIFICATION | COUNTRY OF ORIGIN | QTY | UNIT PRICE US$ | AMOUNT US$ |
|---|---|---|---|---|---|
| 23 | "CHING HUNG" Steam Iron. Model:CH - 711 | TAIWAN | 15 | 163 | 2,445.00 |
| 24 | "OSCAR" Finishing Table, Model:BS-216B | TAIWAN | 15 | 430 | 6,450.00 |
| 25 | "CHING HUNG" Fully Automatic Boiler, Model:CH-BP200 | TAIWAN | 2 | 9500 | 19,000.00 |
| 26 | "B.C.M"Brand Harbox Type Adjustable Cutting Table Auto/Spreading+ Rail W/84" Model:BCT-A120-213PH2(12m) | TAIWAN | 5 | 2300 | 11,500.00 |
| 27 | "B.C.M"Brand S/Roll Type Travel Cable Power Suplly in 1 Line with 2 Power Socket Model:BCT-120SC1+3PNK2 (12m) | TAIWAN | 5 | 520 | 2,600.00 |
| 28 | "B.C.M" Brand End Cutting Machine (Model:BC-260-213) | TAIWAN | 12 | 408 | 4,896.00 |
| 29 | "NITAKA"Brand Double Needle Automatic Machine(Model:TC2-B845-3) | TAIWAN | 15 | 900 | 13,500.00 |
| 30 | "NITAKA"Brand Single Needle Automatic Thread Trimmer+Servo Motor Model:TC2-5550-3- WB/SC-100 | TAIWAN | 68 | 1000 | 68,000.00 |
| 31 | "TAJIMA" Brand Embrodiaing Machine | JAPAN | 1 | 45000 | 45,000.00 |
| 32 | "JSK" Brand Embrodiaing Machine | GERMANY | 1 | 60000 | 60,000.00 |
| 33 | "N.SHING" Brand Cloth Winding Machine | H.K | 12 | 600 | 7,200.00 |
| 34 | "N.SHING" Brand Ribbon Cutting Machine | H.K | 1 | 650 | 650.00 |
| 35 | Die Pressing Machine | H.K | 2 | 350 | 700.00 |
| 36 | "SUMMIT" Brand Flap Former Machine | JAPAN | 3 | 1300 | 3,900.00 |
| 37 | "N.SHING" Brand Belt Packing Machine | H.K | 1 | 2500 | 2,500.00 |
| 38 | Press-Packing Machine | JAPAN | 3 | 250 | 750.00 |
| 39 | "N.SHING" Brand Press-Cutting Machine | H.K | 5 | 800 | 4,000.00 |
| 40 | "N.SHING" Brand Therad Splitting Machine | H.K | 8 | 200 | 1,600.00 |
| 41 | "PHILIP" Brand Vacuum Machine | JAPAN | 8 | 300 | 2,400.00 |
| 42 | "N.SHING" Brand Air-Pressure Machine | H.K | 3 | 400 | 1,200.00 |
| 43 | Fabric Spreading Machine | TAIWAN | 2 | 16000 | 32,000.00 |
| 44 | "EASTMAN" Brand Straight Knife Machine | JAPAN | 10 | 250 | 2,500.00 |
| 45 | "N.SHING" Brand Rubbing Machine | H.K | 10 | 300 | 3,000.00 |
| | TOTAL AMOUNT | | | | 588,301.00 |

| NO. | DESCRIPTION / SPECIFICATION | COUNTRY OFORIGIN | QTY | UNIT PRICE US$ | AMOUNT US$ |
|---|---|---|---|---|---|
| | **ACCESSORIES ETC** | | | | |
| 1 | CLEANING GUN | TAIWAN | 20 PC | 8 | 160.00 |
| 2 | MODEL | TAIWAN | 20 PC | 8 | 160.00 |
| 3 | WEIGH SCALE | TAIWAN | 20 PC | 40 | 800.00 |
| 4 | CLOTH WEIGH-MEASURER | JAPAN | 4 SET | 800 | 3200.00 |
| 5 | SCISSORS | TAIWAN | 2000 PC | 2 | 4000.00 |
| 6 | HAND SHEER | TAIWAN | 60 PC | 15 | 900.00 |
| 7 | WATER BOILER | TAIWAN | 10 PC | 100 | 1000.00 |
| 8 | TICKET PRINTER | TAIWAN | 6 SET | 500 | 3000.00 |
| 9 | SHOWER WATER BOILER | JAPAN | 12 PC | 600 | 7200.00 |
| 10 | METAL WIRED NET | TAIWAN | 300 PC | 10 | 3000.00 |
| 11 | NEEDLE | TAIWAN | 500 Boxes | 5 | 2500.00 |
| 12 | PLASTIC NEEDLE | TAIWAN | 500 Boxes | 3 | 1500.00 |
| 13 | CUTTER BLADE | TAIWAN | 500 PCS | 6 | 3000.00 |
| | **TOTAL AMOUNT** | | | | **30420.00** |
| | **ELECTRICAL** | | | | |
| 1 | WATER PUMP | TAIWAN | 5 SET | 500 | 2500.00 |
| 2 | DIESEL GENERATOR | UK | 2 SET | 20000 | 40000.00 |
| 3 | CENTRAL AIR COND | TAIWAN | 1 SET | 5000 | 5000.00 |
| 4 | WINDOW AIR COND | JAPAN | 20 SET | 800 | 16000.00 |
| 5 | NEONLAMP | JAPAN | 2000 SET | 4 | 8000.00 |
| 6 | SWITCHES | JAPAN | 1000 PC | 2 | 2000.00 |
| 7 | FAN | TAIWAN | 2000 PC | 10 | 20000.00 |
| 8 | VENTILATION FAN | TAIWAN | 30 PC | 50 | 1500.00 |
| 9 | WIRE | TAIWAN | 500 GRS | 5 | 2500.00 |
| 10 | WIRE TUBE | TAIWAN | 5000 YDS | 1 | 5000.00 |
| 11 | SWITCH-BOX | TAIWAN | 20 PC | 30 | 600.00 |
| 12 | REFRIGERATOR | JAPAN | 5 PC | 1000 | 5000.00 |
| | **TOTAL AMOUNT** | | | | **108100.00** |
| | **OFFICE EQUIPMENT & OTHER** | | | | |
| 1 | P.COMPUTER | JAPAN | 10 SET | 1000 | 10000.00 |
| 2 | PHOTO-COPYING M/C | JAPAN | 2 SET | 2500 | 5000.00 |
| 3 | FACSIMILE | TAIWAN | 1 SET | 500 | 500.00 |
| 4 | TYPEWRITER | TAIWAN | 10 SET | 500 | 5000.00 |
| 5 | CACULATOR | JAPAN | 20 SET | 20 | 400.00 |
| 6 | T.V | JAPAN | 5 PC | 500 | 2500.00 |
| 7 | VEDIO CASSETTE DECK | JAPAN | 4 PC | 500 | 2000.00 |
| 8 | KARAOKE | TAIWAN | 2 PC | 800 | 1600.00 |
| 9 | STOOL | TAIWAN | 1000 PC | 10 | 10000.00 |
| 10 | WORKING TABLE | TAIWAN | 50 PC | 50 | 2500.00 |
| 11 | FIBRE BOARD | TAIWAN | 100 PC | 30 | 3000.00 |
| 12 | WOOD BOARD | TAIWAN | 1000 PC | 10 | 10000.00 |
| 13 | FLOOR-MAT | TAIWAN | 2000 YDS | 1.1 | 2200.00 |
| 14 | CEMENT | _ | 100 TON | 40 | 4000.00 |
| 15 | IRON BAR (PLAIN & DEFORM ) | _ | 50 TON | 250 | 12500.00 |
| 16 | ZINC SHEET ( ALUMINIUM COATED ) 8' X 4' | _ | 1000 PCS | 3 | 3000.00 |
| | **TOTAL AMOUNT** | | | | **74200.00** |
| | **VEHICLES** | | | | |
| 1 | SALOON CAR | GERMANY | 1 PC | 30000 | 30000.00 |
| 2 | JEEP ( TOYOTA ) PARADO | JAPAN | 1 PC | 40000 | 40000.00 |
| 3 | MINIBUS ( 7-SEATER ) | JAPAN | 2 PC | 10000 | 20000.00 |
| 4 | TRUCK ( ISUZU ) | JAPAN | 2 PC | 20000 | 40000.00 |
| | **TOTAL AMOUNT** | | | | **130000.00** |

**Proposal Form (1) Re-item 8 B (3) , 9 G**

**Annual Raw Materials & Accessories Requirement**

( Schedule -3 )

| Sr.No | Particular | Value US$ | |
|---|---|---|---|
| | | Year - 1 | Year 2 - 10 |
| 1 | Raw Material for Polo Shirt | 1157785.20 | 1546151.08 |
| 2 | Raw Material for Golf Shirt | 1171024.20 | 1563799.83 |
| 3 | Raw Material for Jacket | 656771.00 | 878894.00 |
| 4 | Raw Material for Track Suit | 1144091.49 | 1528655.31 |
| | **Total** | **4129671.89** | **5517500.22** |

မှတ်ချက်။ ။ (၁) ကုန်ကြမ်း လိုအပ်ချက်၏ ၉၅%သည် (C-M-P) စနစ်ဖြင့် ချုပ်ခယူ၍ ချုပ်မည့်အထည်များအတွက် ဖြစ်သည်။

(၂) ကုန်ကြမ်း လိုအပ်ချက်၏ ၅%သည် ပြည်တွင်းတွင်ရောင်းချရန်အတွက် ချုပ်မည့်အထည်များအတွက် ဖြစ်သည်။

**Annual Raw Materials & Accessories Requirement**

**for Polo Shirt** ( Schedule - 3A )

| Sr.No | Particular | Year - 1 | | | Year 2 - 10 | | |
|---|---|---|---|---|---|---|---|
| | | Quantity | Unit Price US$ | Value US$ | Quantity | Unit Price US$ | Value US$ |
| 1 | 100% Nylon Woven Fabric | 570000 YDS | 1.50 | 855000.00 | 760000 YDS | 1.50 | 1140000.00 |
| 2 | T/C & CVC 1x1 RIB 320 G/Y 22" | 48000 YDS | 1.00 | 48000.00 | 64000 YDS | 1.00 | 64000.00 |
| 3 | 100% Nylon Net Pocket Woven Fabric 68" | 12000 YDS | 1.50 | 18000.00 | 16000 YDS | 1.50 | 24000.00 |
| 4 | CVC 60% Cotton 40% Polyester Single Jersey Jacquard 20 S/1 64" 300 G/Y | 23760 YDS | 2.00 | 47520.00 | 31675 YDS | 2.00 | 63350.00 |
| 5 | CVC 60% Cotton 40% Polyester Single Jersey Y/D Jacquard 30 S/1 28G 74" 235 G/Y | 23760 YDS | 2.00 | 47520.00 | 31675 YDS | 2.00 | 63350.00 |
| 6 | CVC 60% Cotton 40% Polyester Single Jersey Y/D Solid 30 S/1 28G 74" 235 G/Y | 23760 YDS | 2.00 | 47520.00 | 31675 YDS | 2.00 | 63350.00 |
| 7 | 100% Cotton 32 S/2 Mid Jersey 24G - 74" 235 G/Y | 23760 YDS | 2.50 | 59400.00 | 31675 YDS | 2.50 | 79187.50 |
| 8 | Yoko | 37500 Doz | 0.08 | 3000.00 | 50000 Doz | 0.08 | 4000.00 |
| 9 | Main Label | 37500 Doz | 0.05 | 1875.00 | 50000 Doz | 0.05 | 2500.00 |
| 10 | Care Label | 37500 Doz | 0.04 | 1500.00 | 50000 Doz | 0.04 | 2000.00 |
| 11 | Size Label | 37500 Doz | 0.02 | 750.00 | 50000 Doz | 0.02 | 1000.00 |
| 12 | Special Label | 37500 Doz | 0.04 | 1500.00 | 50000 Doz | 0.04 | 2000.00 |
| 13 | Polabel | 37500 Doz | 0.01 | 375.00 | 50000 Doz | 0.01 | 500.00 |
| 14 | Banda | 37500 Doz | 0.08 | 3000.00 | 50000 Doz | 0.08 | 4000.00 |
| 15 | Piping | 24000 YDS | 0.04 | 960.00 | 32000 YDS | 0.04 | 1280.00 |
| 16 | Cotton String | 12000 Doz | 0.05 | 600.00 | 16000 Doz | 0.05 | 800.00 |
| 17 | Zipper | 37500 Doz | 0.07 | 2625.00 | 50000 Doz | 0.07 | 3500.00 |
| 18 | Elastic | 37500 Doz | 0.05 | 1875.00 | 50000 Doz | 0.05 | 2500.00 |
| 19 | Pin | 37500 Doz | 0.06 | 2250.00 | 50000 Doz | 0.06 | 3000.00 |
| 20 | Hang Tag | 37500 Doz | 0.07 | 2625.00 | 50000 Doz | 0.07 | 3500.00 |
| 21 | Bar Code | 37500 Doz | 0.17 | 6375.00 | 50000 Doz | 0.17 | 8500.00 |
| 22 | Tape | 37500 YDS | 0.02 | 750.00 | 50000 YDS | 0.02 | 1000.00 |

## ၇။ မလွဲမရှောင်နိုင်သည့်ဖြစ်ရပ်များ

၇-၁ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်း ကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူ ထိန်းချုပ်၍ မရနိုင်သည့်ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက အဆိုပါမလွဲမရှောင်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ အခြားတစ်ဖက် ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ်ချုပ်ဆိုသူနှစ်ဦး နှစ်ဖက်စလုံးတွင် မည်သည့်တာဝန်မှမရှိစေရ။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များပေါ်ပေါက်သည့် ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နှုတ်ရန်သဘောတူကြပါသည်။

## ၈။ သဘောတူစာချုပ်စတင်အကျိုးသက်ရောက်သောနေ့

၈-၁ ဤသဘောတူစာချုပ်သည် **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့ နှစ်ဦးနှစ်ဖက် မြေငှားသဘောတူစာချုပ်ကို လက်မှတ်ရေးထိုး သဘောတူညီသည့်နေ့မှ စတင်၍အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်သည်။

## ၉။ စာချုပ်ရပ်စဲခြင်း

၉-၁ ဤသဘောတူစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲခြင်း ပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေနှင့်အဆောက်အဦးငှားရမ်းခြင်း သဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော မလွဲမရှောင်နိုင်သည့် ဖြစ်ရပ်များ(၆)လထက် ပိုမိုဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း။

၉-၂ သို့သော်ငြားလည်း **"အငှားချထားခြင်းခံရသူ"** သည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည်ထူထောင်မှု ပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ ၎င်း၏ အခွင့်အရေးများကို ခြွင်းချက်အဖြစ် သက်သာခွင့်ရရှိစေနိုင်သည်။ ဤသဘောတူစာချုပ် တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကို ရပ်စဲလိုပါက ရပ်စဲလိုကြောင်းအကြောင်းကြားစာကို အခြားတစ်ဖက်ထံသို့ (၃)လကြိုတင်၍ ပေးပို့အသိပေးရမည်။

၉-၃ ဤကဲ့သို့ သဘောတူချုပ်ရပ်စဲရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူ အတည်ပြုချက် ရရှိပြီးမှသာလျှင် စာချုပ်ရပ်စဲနိုင်ခွင့်ရှိသည်။

## ၁၀။ အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၀-၁ အကယ်၍ ဤသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည် ဖော်ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများ ဖြစ်ပေါ်လာ ပါက သဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေး ခြင်းဖြင့် အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက် အကျေအလည် ညှိနှိုင်းဆွေးနွေး၍ မရရှိခဲ့ပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိလူကြီး တစ်ဦးစီ ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။ နှစ်ဦးနှစ်ဖက်မှ တင်မြှောက် ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင်ဖြေရှင်းပေးနိုင်ခြင်း မရှိခဲ့ပါက အဆိုပါ ခုံသမာဓိလူကြီးများ သဘောတူသော ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံ ကြရမည်။ ၎င်းခုံသမာဓိလူကြီး၏ အဆုံးအဖြတ်မှာ အနုညာတစီရင် ဆုံးဖြတ်ခြင်း အက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄ ) အရ ဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်သာ ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဖက်မှ ကျခံပေးဆောင်ရမည်။

## ၁၁။ လွှမ်းမိုးသောဥပဒေ

၁၁-၁ ဤသဘောတူစာချုပ်ကို မြန်မာနိုင်ငံဥပဒေများနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။ ဤစာချုပ်ကိုလွှမ်းမိုးသောဥပဒေသည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများဖြစ်သည်။ ဤစာချုပ်ပါ နှစ်ဦးနှစ်ဖက်စလုံးသည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သော တရားရုံးအားလုံး၏ စီရင်ပိုင်ခွင့်ကိုလက်ခံကြပါသည်။

## ၁၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၁၂-၁ ဤသဘောတူစာချုပ်တွင်ပါဝင်သော လုပ်ငန်းဆောင်ရွက်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်မှုများအတွက် သက်ဆိုင်ရာအစိုးရဌာန အဖွဲ့အစည်းများ၏ ခွင့်ပြုသဘောတူညီချက် ရရှိပြီးမှသာလျှင် ဆောင်ရွက်နိုင်ခွင့်ရှိကြမည်ဖြစ်သည်။

## ၁၃။ စာချုပ်အားဖြင့်ပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်၌ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာသဖြင့် စာချုပ်ပါအချက်အလက်များကို ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်သောအခါမျိုးတွင် နှစ်ဦးနှစ် ဖက်မှ စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါအချက်များကို လိုအပ်သလိုပြင်ဆင်ခွင့်ရှိစေရမည်ဖြစ်သည်။

ဤကဲ့သို့ပြင်ဆင်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီအတည်ပြုချက် ရရှိပြီးမှသာလျှင် အတည်ဖြစ်မည်ဖြစ်သည်။

၁၄။ **ကိုယ်စားပြုခြင်းနှင့်အာမခံချက်**

၁၄-၁ ဤသဘောတူစာချုပ်ကို ပါဝင်ချုပ်ဆိုကြသူနှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန်အတွက် သက်ဆိုင်သော ဥပဒေများနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားကြပြီးလျှင် ဥပဒေအရလုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် စီးပွားရေးအရ ခိုင်မာတောင့်တင်းမှု ရှိသောသူများဖြစ်ကြောင်းအာမခံသည်။

၁၅။ **ဘာသာစကား**

၁၅-၁ ဤမြေငှားသဘောတူစာချုပ်ကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာဘာသာဖြင့် စာချုပ်သုံးစောင် ရေးသားပြီးလျှင် စာချုပ်နှစ်စုံကို နှစ်ဦးနှစ်ဖက်မှ တစ်စုံစီရယူထားပြီး၊ ကျန်သောစာချုပ်တစ်စုံကို သက်ဆိုင်ရာ အာဏာပိုင် အဖွဲ့အစည်းထံသို့ ပေးပို့၍ စစ်ဆေးခြင်းနှင့် အတည်ပြုချက်များ ရယူနိုင်ရန် ပေးပို့ရမည်။

၁၆။ **အကြောင်းကြားစာ**

၁၆-၁ ဤသဘောတူ စာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများ အားအောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့် ရေးသားပြီးလျှင် စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ နှစ်ဦးနှစ်ဖက် ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ပေးပို့ရာတွင် သဘောတူ စာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှ အကြောင်းကြားလာသည့် အခြားလိပ်စာဖြင့် သော်လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။
လိပ်စာများမှာ-

(က) **"အငှားချထားသူ"**

(၁)အမည် - ဦးအင်စိုး
(၂)လိပ်စာ - အမှတ်(၉)၊ စကားဝါလမ်း၊ အေးရိပ်မွန်အိမ်ယာ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။
(၃)ဖုံးအမှတ် -
(၄)ဖက်စ်နံပါတ် -
(၅)တဲလက်နံပါတ် -

(ခ) "အငှားချထားခြင်းခံရသူ"

| | |
|---|---|
| (၁)အမည် | -တိုင်ရာအထည်ချုပ်လုပ်ငန်း၊ ကုမ္ပဏီလီမိတက် |
| (၂)လိပ်စာ | -အမှတ်(၃၁၁)၊ အောက်ကြည့်မြင်တိုင်လမ်း၊အလုံမြို့နယ် ရန်ကုန်မြို့။ |
| (၃)ဖုံးအမှတ် | - |
| (၄)ဖက်စ်နံပါတ် | - |
| (၅)တဲလက်နံပါတ် | - |

၁၆-၂ ယခုကဲ့သို့ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့် အခါတွင် ပေးပို့ခြင်းကို လက်ခံရယူသည့် ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်း အကြောင်းပြန်ကြားစာ ရရှိပြီးမှသာလျှင် ပေးပို့ခြင်းကိစ္စ ပြီးမြောက်ပြီး ဖြစ်သည်ဟု အတည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

## ၁၇။ အငှားချထားသောမြေပုံ

၁၇-၁ ဤသဘောတူစာချုပ်အရ အငှားချထားမည့် ရန်ကုန်မြို့လှိုင်သာယာမြို့နယ်၊စက်မှုဒေသ၊ ဇုန်အမှတ်(၄)၊မြေကွက်အမှတ်(၁၆၅)တွင် တည်ရှိသောအငှားချထားသူ ပိုင်ဆိုင်သည့်(၁. ၀၃၃) ဧကကျယ်ဝန်းသော မြေနေရာနှင့်စပ်လျဉ်းသည့် မြေငှားစာချုပ်(စက်မှုလက်မှုလုပ်ငန်း)နှင့် မြေနေရာပြမြေပုံတို့ကို နောက်ဆက်တွဲ(က)တွင် ပူးတွဲဖော်ပြထား ပါသည်။

## ၁၈။ တွင်းထွက်ပစ္စည်းများနှင့် သယံဇာတပစ္စည်းများ

၁၈-၁ ဤ သဘောတူစာချုပ်အရ ငှားရမ်းမှု ပြုလုပ်ထားသော မြေနေရာတွင် မည်သည့်အချိန် တွင်မဆို ထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုများ၊ သဘာဝတွင်းထွက် သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ကြေးနီ၊ ရေနံနှင့် အခြားသော တူးဖော်ရရှိလာမည့် သဘာဝ အရင်းအမြစ်များ အားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရနှင့်သာ သက်ဆိုင်စေ ရမည်ဖြစ်ပြီး အငှားချထားသူအနေဖြင့် သက်ဆိုင်ရာ အစိုးရဌာနသို့ အကြောင်းကြားတင်ပြ ပေးရမည်ဖြစ်သည်။

## ၁၉။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၉-၁ **"အငှားချထားခြင်းခံရသူ"** သည် ဆောက်လုပ်ထားသော အဆောက်အဦးများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင် တစ်ဝိုက်တွင် ဘေးအန္တရာယ် ကျရောက်မှုနှင့် ညစ်ညမ်းမှုများတို့မှ ကာကွယ်ရန် အတွက်လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို **"အငှားချထားခြင်းခံရသူ"** မှ ဆောင်ရွက်ပေးရမည်။ ၎င်းတို့၏ အစိတ်အပိုင်းအပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုမျိုးကိုမဆို **"အငှားချထားသူ"** အပေါ်တွင် တာဝန်မရှိစေရ။ **"အငှားချထားခြင်းခံရသူ"** ကသာ ကျခံပေးချေရမည်။

## ၂၀။ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၀-၁ အငှားချထားခြင်းခံရသူသည်၊ ကနဦး ငှားရမ်းသည့်ကာလ ကုန်ဆုံးသည့်အခါတွင်ဖြစ်စေ၊ သို့မဟုတ်တိုးမြှင့်ငှားရမ်းသည့်ကာလ ကုန်ဆုံးသည့်အခါတွင်ဖြစ်စေ၊ အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးအား အငှားချထားသူသို့ အဖိုးစားနားမပါရှိပဲ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ ယင်းသို့လွှဲပြောင်းပေးရာတွင် အဆောက်အဦးတွင် တပ်ဆင်ထားသောပစ္စည်းများ ရွှေ့ပြောင်းနိုင်သောပစ္စည်းများအား အငှားချထားခြင်းခံရသူမှ ပြန်လည်ရယူပိုင်ခွင့်ရှိစေရမည်။

## ၂၁။ အထွေထွေ

၂၁-၁ ဤမြေငှားသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက် များသည် သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသော အချက်အလက်များနှင့် အဓိပ္ပါယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွှတ်ဖြစ်နေခြင်းများ ဖြစ်ပေါ်လာပါက မြေငှားသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသော အချက်အလက်များကိုသာ အတည် ဖြစ်သည်ဟု မှတ်ယူစေရမည်ဖြစ်သည်။

ဤသဘောတူစာချုပ်ကို အထက်ဖော်ပြပါ -------- ခုနှစ်၊ ------------ လ နှင့် ------------- နေ့ရက်တွင် နှစ်ဦးနှစ်ဖက်မှ တရားဝင်ကိုယ်စားလှယ်များမှ တံဆိပ်ရိုက်နှိပ်ပြီး၊ လက်မှတ်ရေးထိုး သဘောတူညီကြပါသည်။

**အငှားချထားသူ**
ဦးအင်စိုး

**အငှားချထားခြင်းခံရသူ**
တိုင်ရာအထည်ချုပ်လုပ်ငန်း
ကုမ္ပဏီလီမိတက်
ကိုယ်စားလက်မှတ်ရေးထိုးသူ

လက်မှတ် :-------------
အမည် :-------------
လိပ်စာ :-------------

လက်မှတ် :-------------
အမည် :-------------
လိပ်စာ :-------------

**အသိသက်သေ**

လက်မှတ် :-------------
အမည် :-------------
လိပ်စာ :-------------

**အသိသက်သေ**

လက်မှတ် :-------------
အမည် :-------------
လိပ်စာ :-------------

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၁၉၉၈ခုနှစ် အောက်တိုဘာ လ (၁၆)ရက်

အကြောင်းအရာ ။ ။ စက်မှုဇုံမြေကွက်ငှါးရမ်းခြင်းအတွက် သဘောတူညီချက်ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဦးအင်စိုး(အငှါးချထားသူ) မှတ်ပုံတင်အမှတ်(MGIE-006877)သည် ဒေါ်သက်သက်မွန်(အငှါးချထားခြင်းခံရသူ) မှတ်ပုံတင်အမှတ်(TVY- 090607)အား မြေကွက်အမှတ်(၁၆၅)၊ စက်မှုဇုံ(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့ရှိကျွန်တော်၏မြေကွက်ပေါ်တွင်**ထိုင်ရာအထည်ချုပ်**လုပ်ငန်းကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရလျှင် တည်ဆောက်မည့် စက်ရုံလုပ်ငန်းအဆောက်အအုံအား စက်ရုံတည်ဆောက်ရေးလုပ်ငန်းများ လုံးဝအချောသတ်ပြီးစီး၍ စက်ရုံစတင်လည်ပတ်ပြီး ကုန်ထုတ်လုပ်မှုစတင်သည့်နေ့မှသာလျှင် မြေငှါးရန်းခများကို စတင်ကောက်ခံမည်ဖြစ်ကြောင်း သဘောတူညီပါသည်။

အငှါးချထားသူ

လက်မှတ် -
အမည် - ဦးအင်စိုး
မှတ်ပုံတင် - MGIE-006877
လိပ်စာ - အမှတ်(၉)၊စကားဝါလမ်း
အေးရိပ်မွန်အိမ်ယာ
လှိုင်မြို့နယ်၊ ရန်ကုန်မြို့။







20 FEB 1998

# မြေငှားစာချုပ်
# စက်မှုလက်မှုလုပ်ငန်း
# မူရင်း

စက်မှုဇုန်များစီမံခန့်ခွဲရေး၊ ... ကြား၊ ချက်အမှတ် ၁/၉၇ ကို လိုက်နာရမည်၊

၁၉၉၈ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် လသသယ/အပိုင်း-၄/၁၁၁/၉၈ ရ၊ ထုတ်ပေးသည်။
၃၀.၁.၉၈

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ ဌာနနှင့် အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့် စကားရပ်တွင် မြို့ ဌာနနှင့်အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ရန်ကုန် မြို့နေ၊ ဦး ခင်ဟုတ် ၏၊ သား/သမီး ဖြစ်သော ဦး/ဒေါ် အခင်ရိုး အမျိုးသားမှတ်ပုံတင်အမှတ် MGIE - ００６၈၇၇ (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၅၉ ခုနှစ်၊ တပို့တွဲ လဆန်း/လပြည့်ကျော် ၉ ရက်နေ့၊ ၁၉ ၉၈ ခုနှစ်၊ ( ဖေဖော်ဝါရီ လ ၂၀ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်-ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက-နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက် အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြား အခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ ဌာနနှင့် အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်-ချုပ်ဆိုသည့် ၂၀.၂.၁၉၉၈ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၂ ခုနှစ် ဖေဖော်ဝါရီ လ ၁၉ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂၂၅ ပြား - ( ငါးရာနှစ်ဆယ်ငါးကျပ် - ) တိတိကို ဇန်နဝါရီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁-ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁-ရက် နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁-ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁-ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁-ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တဆယ့်ငါးနှစ်နှင့် တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့် ငါးနှစ်အတွက် အပိုဒ် ၃-တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။




20 FEB 1998

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန် [illegible] ဆိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင် [illegible] ဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားအတွင်းအဆိုပါ မြေကွက်ကို [illegible] အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် [illegible] အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေတစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်းသင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက်တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၈ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သော်လည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့ဘည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန်ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂–အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့် အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂–အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၂ ) ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ( ၁၉ ) ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄–အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ

အက်စ် - ၂၂

......လှိုင်သာယာ......မြို့နယ် လူနေရပ်ကွက်အမှတ်......စက်မှုဇုန်......

မြေတိုင်းရပ်ကွက်အမှတ်...ဒ၁ ဗိုင်း(၅)...မှမြေကွက်အမှတ်......၁၆၅......၏မြေပုံ–

၁–လက်မချင်း ၁၀၀ ပေစကေး




ရည်ညွှန်းချက်

......[redacted]......ဧရိယာ စတုရန်းပေ......၄၄၉၈၉.၅......

ဧက......၁.၀၃၃......

မြေတိုင်း(၄) မြေတိုင်း(၃) မြေတိုင်း(၂)

ဦးစီးအရာရှိ

မြေတိုင်းဌာနခွဲ

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန




Section 1.1




Section 2.2




Front Side Elevation

## TAI YAR GARMENT INDUSTRY COMPANY LIMITED
## FACTORY LAYOUT






Asia Wealth Bank Ltd.

NANN YAR INDUSTRY CO;L
NO.311,LOWER KYIMYINDINE ST,AHLONE TSP.

Date : 06/04/1998

Saving A/C No. : 2301266

Balance (including Int.) : 5782101.17 · ( on 06 April 1998 )

Balance (in Word) : Five Million , Seven Hundred and Eighty Two Thousand , One Hundred and One Kyat(s) SeventeenPya(s) Only.

Please inform any discrepancies immediately and also present your saving passbook to enter interest.

Manager
Asia Wealth Bank Ltd.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

## တိုင်ရှ ၁ အထည်ချုပ်လုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



ကုမ္ပဏီ၏ အမည်သည် " တိုင်ရှ ၁ အထည်ချုပ် လုပ်ငန်း ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

**ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

**ကုမ္ပဏီ** တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

ကုမ္ပဏီ၏ သတ်မှတ်ထားသည့်ငွေရင်းသည် ကျပ် ၁၀၀၀၀၀၀၀၀ /-(ကျပ် တစ်ရာ သန်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀/-(ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀ ) ပါဝင်ပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ အင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

~~(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊~~

~~(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊~~

~~(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုပ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊~~

~~(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊~~

~~(င) ဓာတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊~~

~~(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

✓(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊ Thetmon

✓(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုက်ဆေးများ ထုတ်လုပ်ခြင်း၊ Thetmon

~~(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

✓(ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊ Thetmon

~~(ဍ) ဆေးဝါးထုတ်လုပ်ခြင်း၊~~

✓(ဎ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊ Thetmon

(၂) အောက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

**ခြွင်းချက်**။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုဟည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါ်သက်သက်မွန်<br>၄၂(အေ)၊ ပထမထပ်၊ ၄လမ်း၊<br>လမ်းမတော်မြို့နယ်၊<br>ရန်ကုန်တိုင်း။ (ကုန်သည်) | မြန်မာ<br>တီဗွီပိုင်-<br>၀၉၀၆၀၀ | ၁၀ | |
| ၂ | ဦး အောင်စိုး<br>၄၂(အေ)၊ ပထမထပ်၊ ၄လမ်း၊<br>လမ်းမတော်မြို့နယ်၊<br>ရန်ကုန်တိုင်း။ (ကုန်သည်) | မြန်မာ<br>တီဗွီပိုင်-<br>၀၇၆၆၆ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၂၁ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U MYINT WAI
B.Com., R.A.
Registered Accountant
Auditor & Consultant

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

### အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# တိုင်ရ ၁အာသည်ချုပ် လုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁၀၀၀၀၀၀၀၀ /-(ကျပ် တစ်ရာ
သ န်း ကိုတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /-(ကျပ် တစ်
သော င်း . တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀ ) ခွဲထားပါသည်။

ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အဟောင်းထွေမန်နေရာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် ပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ငယ်ဖူးကြခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( [illegible] ) ဦးထက်မနည်း၊ (၁၀) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်–

(၁) ဒေါ်သက်သက်မွန်

(၂) ဦး အောင်စိုး

(၃)

(၄)

(၅) ကို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥပဇ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( – ) စု ကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၄ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံး၏ လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုး သက်ရောက်စေရမည်။

**ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ**

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ ကောင်းစွာခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းတို့ရာ၌ ရောင်းချပိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အပ်အကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အတွေ့တွေ့အစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အတွေ့တွေ့သင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အတွေ့တွေ့အစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မပြည့်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာနှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေရသည့် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ညာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



